သက်ဆိုင်ရာ တည်ဆဲဥပဒေ စည်းမျဉ်းစည်းကမ်းများကို လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ကြောင်း ဖော်ပြအပ်ပါသည်။

(ဂ) စာချုပ်(မူကြမ်း) ပုဒ်မ (၃)တွင် သက်တမ်းကာလကို ဖော်ပြရာ၌ ပြင်ဆင်ချိန်ကာလ (၆)လ၊ ရှာဖွေရေးကာလ (၃)နှစ်၊ ထုတ်လုပ်မှုစတင်သည့်အချိန်မှ အနှစ်(၂၀)ဖြစ်ကြောင်း ဖော်ပြထားပါသည်။

(ဃ) စာချုပ်(မူကြမ်း) ပုဒ်မ (၅) အပိုဒ်ခွဲ (၅-၆)တွင် ကန်ထရိုက်တာကုမ္ပဏီမှ မြန်မာ့ရေနံနှင့်သဘာဝဓါတ်ငွေ့လုပ်ငန်းသို့ လုပ်ငန်းဆောင်ရွက်မှု ဘဏ်အာမခံကြေး (PBG) ပေးသွင်းခြင်း၊ ပုဒ်မ (၁၇)တွင် ကန်ထရိုက်တာကုမ္ပဏီက ရေနံစတင်ရောင်းချချိန်မှ စ၍ပေးဆောင်ရန်ရှိသော အခွန်အခများကို ပေးဆောင်မည်ဖြစ်ကြောင်း ဖော်ပြထားသဖြင့် သင့်မြတ်မှုရှိပါသည်။

(င) စာချုပ်(မူကြမ်း) ပုဒ်မ (၉)တွင် ထုတ်လုပ်ရရှိသည့် ရေနံများအပေါ် စာချုပ်ဝင်ပုဂ္ဂိုလ်များဖြစ်ကြသည့် MOGE နှင့် ကန်ထရိုက်တာကုမ္ပဏီများအကြား သတ်မှတ်ထားသည့် ရေနံပမာဏအလိုက် အချိုးကျအကျိုးအမြတ် ခွဲဝေမည်ဖြစ်ကြောင်း ဖော်ပြထားသည့်အတွက် သင့်မြတ်မှုရှိပါသည်။

(စ) စာချုပ် (မူကြမ်း) အပိုဒ်(၂၂)တွင် စာချုပ်ဝင်ပုဂ္ဂိုလ်များအကြား အငြင်းပွားမှုပေါ်ပေါက်လာလျှင် ၁၉၄၄ ခုနှစ်၊ မြန်မာနိုင်ငံ အနုညာတစီရင်ဆုံးဖြတ်ခြင်း အက်ဥပဒေအရ လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း ဖော်ပြထားသဖြင့် သင့်မြတ်မှုရှိပါသည်။

(ဆ) စာချုပ် (မူကြမ်း)ပါ သတ်မှတ်ချက်များသည် ၂၀၁၂ ခုနှစ်အတွင်း မြန်မာ့ရေနံနှင့်သဘာဝဓါတ်ငွေ့လုပ်ငန်းနှင့် နိုင်ငံခြားကုမ္ပဏီများအကြား ကုန်းပိုင်းလုပ်ကွက်များအတွက်လက်မှတ်ရေးထိုးခဲ့သည့် Production Sharing Contract များပါ သတ်မှတ်ချက်များကို အခြေခံရေးဆွဲထားသည်ကို တွေ့ရှိရပါသည်။

(ဇ) စာချုပ်(မူကြမ်း)ပါ စီမံကိန်းလုပ်ငန်းများ အကောင်အထည်ဖော် ဆောင်ရွက်ရာတွင် တည်ဆဲ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ (၂၀၁၂) နှင့်အညီ ဆောင်ရွက်ရန် ဖြစ်ပါသည်။

(ဈ) စာချုပ် (မူကြမ်း)တွင် ရေနံနှင့်သဘာဝဓါတ်ငွေ့ ရှာဖွေ၊ တူးဖော်၊ ထုတ်လုပ်ခြင်းလုပ်ငန်းသည် ၁၉၈၉ခုနှစ်၊ နိုင်ငံတော်ပိုင်စီးပွားရေးလုပ်ငန်းများဥပဒေ ပုဒ်မ (၃)၊ ပုဒ်မခွဲ (ဂ)တွင် အကျုံးဝင်သက်ဆိုင်သဖြင့် ယင်းဥပဒေ ပုဒ်မ(၄) အရ ပြည်ထောင်စုအစိုးရအဖွဲ့က အမိန့်ကြော်ငြာစာ ထုတ်ပြန်၍ ခွင့်ပြုရန်လိုအပ်သည်ကို အကြံပြုအပ်ပါသည်။

(ည) စာချုပ် (မူကြမ်း)အား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်(MIC)၏ ခွင့်ပြုချက်ရရှိပြီးမှသာ စာချုပ်ဝင်ပုဂ္ဂိုလ်များအကြား လက်မှတ်ရေးထိုးချုပ်ဆိုသင့်ပါကြောင်း အကြံပြုအပ်ပါသည်။

(ဋ) စာချုပ် (မူကြမ်း)ပါ ကိစ္စရပ်များနှင့် စပ်လျဉ်း၍ ပြည်ထောင်စုလွှတ်တော်ဆိုင်ရာ ဥပဒေကို ပြင်ဆင်သည့်ဥပဒေ (၂၀၁၄ခုနှစ်၊ ပြည်ထောင်စုလွှတ်တော်ဥပဒေ အမှတ် ၂) နှင့်အညီ ဆောင်ရွက်ရန် ဖြစ်ပါသည်။

(ဌ) စာချုပ် (မူကြမ်း) အရ မိမိဘက်မှ ဆောင်ရွက်ပေးရမည့် ကိစ္စရပ်များ နှင့် လုပ်ငန်း ကျွမ်းကျင်မှုဆိုင်ရာ ကိစ္စရပ်များ နှင့်စပ်လျဉ်း၍ နိုင်ငံတော်၏ တည်ဆဲဥပဒေ၊ နည်း ဥပဒေ၊ စည်းမျဉ်းစည်းကမ်းများ၊ လုပ်ထုံးလုပ်နည်းများနှင့် ညီညွတ်မှုရရှိရန် လိုအပ် မည်ဖြစ်ပါသဖြင့် သက်ဆိုင်ရာ လုပ်ငန်းအကောင်အထည်ဖော်မည့် ဌာန၊အဖွဲ့အစည်းမှ တာဝန်ယူစိစစ်ရန် ဖြစ်ပါသည်။

၂။ စာချုပ် လက်မှတ်ရေးထိုးပြီးပါက မိတ္တူ (၃)စောင်ကို ဤဝန်ကြီးဌာနသို့ ပေးပို့ပေးပါရန် မေတ္တာ ရပ်ခံအပ်ပါသည်။

(လဲ့လဲ့သိန်း)
ဒုတိယဝန်ကြီး

မိတ္တူကို
မြန်မာ့ရေနံနှင့်သဘာဝဓါတ်ငွေ့လုပ်ငန်း
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန
ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံတော်ဗဟိုဘဏ်

နောက်ဆက်တွဲ-ည

စာအမှတ်၊မဗဘ/ဘဏ်စိစစ်/၄(၁၃၄/၂၀၁၄)

ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ မတ်လ ၂၄ ရက်

သို့

စွမ်းအင်ဝန်ကြီးဌာန

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ စွမ်းအင်ဝန်ကြီးဌာန၏ ၁၁-၃-၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ၀၀၈/၈၈၃/ထ (၂၀၉/၂၀၁၄)

စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံနှင့် သဘာဝဓာတ်ငွေ့လုပ်ငန်း(MOGE) ၏ ကုန်းပိုင်းလုပ်ကွက် EP-3 (သဲကုန်း-ရွှေကူဒေသ) တွင် ရေနံနှင့်သဘာဝဓာတ်ငွေ့ ရှာဖွေ၊ တူးဖော်၊ ထုတ်လုပ်ခြင်း ဆောင်ရွက်ရန်အတွက် MOGE နှင့် ONGC Videsh Limited နှင့် Machinery and Solutions Company Limited (CONTRACTOR) တို့ချုပ်ဆိုမည့် Production Sharing Contract for Exploration and Production of Petroleum (မူကြမ်း) အပေါ် မြန်မာနိုင်ငံတော်ဗဟိုဘဏ်၏ သဘောထား မှတ်ချက်အား အောက်ပါအတိုင်း ပြန်ကြားအပ်ပါသည်-

(က) စာချုပ်မူကြမ်း Section 17.1 (c) တွင် CONTRACTOR ၏ တောင်းဆိုမှုကြောင့် MOGE က ကျခံထားသည့် Petroleum Cost အပါအဝင် စရိတ်များကို CONTRACTOR က MOGE သို့ ပြန်လည်ထုတ်ပေးရမည်ဖြစ်ကြောင်း၊ ပြန်လည်ထုတ်ပေးမှုများကို အမေရိကန်ဒေါ်လာဖြင့် တွက်ချက်မည်ဖြစ်ပြီး တွက်ချက်ရာတွင် အသုံးစရိတ်ကျခံသည့်အချိန်ရှိ မြန်မာနိုင်ငံတော်ဗဟိုဘဏ်က သတ်မှတ်သည့် ရည်ညွှန်းငွေလဲလှယ်နှုန်းကို အသုံးပြုမည်ဖြစ်ကြောင်း ဖော်ပြထားခြင်းကို "----at the prevailing market rate through authorized dealer bank at the time the expense was incurred" ဟု ပြင်ဆင်ဖော်ပြရန် ဖြစ်ပါသည်၊

(ခ) စာချုပ်၏ Annexure-G Performance Bank Guarantee ပုံစံတွင် အာမခံကို တတိယနိုင်ငံဖြစ်သော စင်ကာပူနိုင်ငံ၏ ဥပဒေဖြင့် ဆောင်ရွက်မည်ဖြစ်ကြောင်း

ဖော်ပြထားခြင်းအား ဌာနအနေဖြင့် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက် ရယူဆောင်ရွက်သင့်ပါသည်။

24-3-2014
(ဆက်အောင်)
ဒုတိယဉက္ကဋ္ဌ

လျှို့ဝှက်

၂၁၀

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ပြည်ထောင်စုအစိုးရအဖွဲ့စီးပွားရေးရာကော်မတီ

စာအမှတ်၊ ၁၂(၁) / ၁၆ /သမ္မတရုံး

ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ မေလ ၂၀ ရက်

သို့

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

အကြောင်းအရာ။ ပြည်ထောင်စုအစိုးရအဖွဲ့ စီးပွားရေးရာကော်မတီ ( ၁၆ / ၂၀၁၄ ) ၏ မှတ်တမ်းကောက်နုတ်ချက် တင်ပြခြင်းကိစ္စ

၁။ ပြည်ထောင်စုအစိုးရအဖွဲ့ စီးပွားရေးရာကော်မတီအစည်းအဝေး ( ၁၆ / ၂၀၁၄ ) ကို ၁၉ - ၅ - ၂၀၁၄ ရက်နေ့ ( တနင်္လာနေ့ ) တွင် သမ္မတရုံးဝန်ကြီးဌာန ( ၃ ) ၊ ရုံးအမှတ်( ၁၄ ) အစည်းအဝေးခန်းမ၌ ကျင်းပပြုလုပ်ခဲ့ပါသည်။

၂။ အဆိုပါအစည်းအဝေး၌ ဆွေးနွေးခဲ့သည့် အကြောင်းအရာများ၏ ကောက်နုတ်ချက်များကို သိရှိနိုင်ပါရန် ပူးတွဲပါဇယားဖြင့် တင်ပြအပ်ပါသည်။

အတွင်းရေးမှူး

ပြည်ထောင်စုအစိုးရအဖွဲ့စီးပွားရေးရာကော်မတီ

မိတ္တူကို

နိုင်ငံတော်သမ္မတရုံး

စီးပွားရေးရာကော်မတီအဖွဲ့ဝင် ( အားလုံး )

ပြည်ထဲရေးဝန်ကြီးဌာန

ပြန်ကြားရေးဝန်ကြီးဌာန

ကချင်ပြည်နယ်အစိုးရအဖွဲ့

စစ်ကိုင်းတိုင်းဒေသကြီးအစိုးရအဖွဲ့

ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့

| စဉ် | တင်ပြသည့်ဝန်ကြီးဌာန | အကြောင်းအရာ | ဆုံးဖြတ်ချက် |
| --- | --- | --- | --- |
| ၁၁ | ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | မြန်မာနိုင်ငံရှိ သဘာဝသယံဇာတအရင်းအမြစ်များ ထိန်းသိမ်းကာကွယ်ခြင်းနှင့် စီမံအုပ်ချုပ်ခြင်းဆိုင်ရာ ပူးပေါင်း ဆောင်ရွက်ရန်ကိစ္စ တင်ပြခြင်း။ | နိုင်ငံတော်သမ္မတကြီးထံ တင်ပြပြီးကပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးသို့ တင်ပြဆောင်ရွက်ရန်။ |
| ၁၂ | ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | မြန်မာနိုင်ငံရှိ ဇီဝမျိုးစုံမျိုးကွဲ ထိန်းသိမ်းရေးလုပ်ငန်းများ ပူးပေါင်းဆောင်ရွက်ရန်ကိစ္စ တင်ပြခြင်း။ | နိုင်ငံတော်သမ္မတကြီးထံ တင်ပြပြီးကပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးသို့ တင်ပြဆောင်ရွက်ရန်။ |
| ၁၃ | စွမ်းအင်ဝန်ကြီးဌာန | စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံနှင့်သဘာဝဓာတ်ငွေ့လုပ်ငန်းနှင့် နိုင်ငံခြား ရေနံကုမ္ပဏီ ၅ ခု တို့အား ကုန်းပိုင်းလုပ်ကွက်များ ဖြစ်သည့် B-2 ( ဇီးဖြူတောင်-နန်တောဒေသ )၊ EP- 1( ကျောက်ကြီး - မင်းတုန်း ဒေသ )၊ EP-3 ( သဲကုန်း- ရွှေကူဒေသ )၊ C-1 ( အင်းတော်-ရနန်းဒေသ)၊ PSC- H ( တောင်ငူ-ပျဉ်းမနားဒေသ)၊ MOGE-4 ( မြင်သာဒေသ)၊ Ep-4( မရမန်ဒေသ ) တို့၌ ထုတ်လုပ်မှု အပေါ်ခွဲဝေခံစားရေးစာချုပ် ( Production Sharing Contract- PSC ) ချုပ်ဆိုလုပ်ကိုင်ခွင့်ပြုရန်ကိစ္စ တင်ပြခြင်း။ | - တင်ဒါစည်းကမ်းချက်များနှင့်အညီ ဝန်ကြီးဌာနမှ ဆောင်ရွက်ရန်။<br>- နိုင်ငံတော်သမ္မတကြီးထံ တင်ပြပြီးကပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးသို့ တင်ပြဆောင်ရွက်ရန်။ |
| ၁၄ | စက်မှုဝန်ကြီးဌာန | သဘာဝဓာတ်ငွေ့သုံးစက်ရုံများအတွက် ပေးချေနေရသည့် သဘာဝဓာတ်ငွေ့ဈေးနှုန်းအား ဖြေလျှော့သတ်မှတ်ပေးနိုင်ပါရန် တင်ပြခြင်း။ | နိုင်ငံတော်သမ္မတကြီးထံ တင်ပြပါမည်။ |

လျှို့ဝှက်

၂၁၃

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

နိုင်ငံတော်သမ္မတရုံး

၁၅

၂၈-၅-၁၄

စာအမှတ်၊ ၅၆ (၁) / ၇ / သမ္မတရုံး

ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ မေလ ၂၇ ရက်

သို့

စွမ်းအင်ဝန်ကြီးဌာန

အကြောင်းအရာ။ **စာချုပ်ချုပ်ဆိုခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ ယင်း၏ ၁၅-၅-၂၀၁၄ ရက်စွဲပါစာအမှတ်၊ ၀၁၈/၈၈၂/ထ(၄၁၈/၂၀၁၄)

စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံနှင့် သဘာဝဓာတ်ငွေ့လုပ်ငန်းနှင့် နိုင်ငံခြားကုမ္ပဏီ(၅)ခုတို့သည် ကုန်းပိုင်းလုပ်ကွက်များဖြစ်သည့် B-2 (ဇီးဖြူတောင်-နန်တောဒေသ)၊ EP-1 (ကျောက်ကြီး-မင်းတုန်းဒေသ)၊ EP-3 (သဲကုန်း-ရွှေကူဒေသ)၊ C-1 (အင်းတော်-ရနန်းဒေသ)၊ PSC-H (တောင်ငူ-ပျဉ်းမနားဒေသ)၊ MOGE-4 (မြင်သာဒေသ)၊ EP-4 (မရမန်ဒေသ)တို့၌ ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားသည့်စနစ် (Production Sharing Contract – PSC) ဖြင့် စာချုပ် ချုပ်ဆိုခွင့်ပြုပါရန် ရည်ညွှန်းစာဖြင့် တင်ပြလာခြင်းအား လုပ်ထုံးလုပ်နည်းနှင့်အညီ ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးသို့ တင်ပြဆောင်ရွက်သွားရန် အကြောင်းကြားအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်

မိတ္တူကို

သမ္မတဦးစီးရုံး

ဒုတိယသမ္မတဦးစီးရုံးများ

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

သမ္မတရုံးဝန်ကြီးဌာန(၃)

သမ္မတရုံးဝန်ကြီးဌာန(၅)

လျှို့ဝှက်

D:\2014\Cabinet\16-2014\56-1.Docx

[illegible]

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

စွမ်းအင်ဝန်ကြီးဌာန

(ဝန်ကြီးရုံး)

အကြောင်းအရာ။ မှတ်တမ်းကောက်နုတ်ချက်ပေးပို့ခြင်း

ရည် ညွှန်း ချက် ။ (၁) ဤရုံး၏ ၂၇-၅-၂၀၁၄ရက်စွဲပါစာအမှတ်၊ ဝ၀၈/၈၂/ထ (၄၅၄/၂၀၁၄)

(၂) ပြည်ထောင်စုအစိုးရအဖွဲ့ရုံး၏ ၁၉-၆-၂၀၁၄ ရက်စွဲပါစာအမှတ်၊ ၃၈/၂၅၇/အဖရ(၁၁/၂၀၁၄)

အထက်ရည်ညွှန်း(၁)ပါစာဖြင့် တင်ပြထားသော စွမ်းအင်ဝန်ကြီးဌာန၊ မြန်မာ့ရေနံနှင့် သဘာဝဓာတ်ငွေ့လုပ်ငန်းနှင့် နိုင်ငံခြားရေနံကုမ္ပဏီ ၅ ခုတို့အား ကုန်းပိုင်းလုပ်ကွက်များဖြစ်သည့် B-2(ဇီးဖြူတောင်-နန်တောဒေသ)၊ EP-3 (သဲကုန်း-ရွှေကူဒေသ)၊ EP-1(ကျောက်ကြီး-မင်းတုန်းဒေသ)၊ C-1(အင်းတော်-ရနန်းဒေသ)၊ PSC-H (တောင်ငူ-ပျဉ်းမနားဒေသ)၊ MOGE -4 (မြင်သာဒေသ)၊ EP-4(မရမန်ဒေသ)တို့၌ ထုတ်လုပ်မှုအပေါ် ခွဲဝေခံစားရေးစာချုပ်( Production Sharing Contract –PSC) ချုပ်ဆိုလုပ်ကိုင်ခွင့်ပြုပါရန် တင်ပြခြင်းကိစ္စနှင့်ပတ်သက်၍ ၄-၆-၂၀၁၄ ရက်နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၁၁/၂၀၁၄)မှ သဘောတူပါကြောင်း ရည်ညွှန်း(၂)ပါစာဖြင့် အကြောင်းကြားလာပါသဖြင့် လိုအပ်သလို ဆက်လက်ဆောင်ရွက်နိုင်ပါရန် အကြောင်းကြားအပ်ပါသည်။

ဒုတိယဝန်ကြီး(ကိုယ်စား)

(ဌေးအောင်၊ရုံးအဖွဲ့မှူး)

သို့ စွမ်းအင်စီမံရေးဦးစီးဌာန

စာအမှတ်၊ ၅-၂ စွမ်းအင်(၁) ( ၂၆၂၁ ) ၂၀၁၄

ရက် စွဲ ၊ ၂၀၁၄ ခုနှစ်၊ ဇူလိုင်လ ၂ ရက်

လျှို့ဝှက်

စည်းကြပ်မှုအရငွေသွင်းချလန် ကသခ-၁၆ က

ငွေပေးသွင်းသူသို့ ပြန်ပေးရန်

ဦးထွန်းထွန်းမြင့်(စု(၅))

BCD-010015

စည်း

2/14

"အခွန်ပေးဆောင်မှုအတွက် အထူးပင် ကျေးဇူးတင်ရှိပါသည်။"

31-3-14

အခွန်ထမ်းလုပ်ငန်းမှတ်ပုံတင်အမှတ် ၄၂၂/ကသ /၂၀၁၃-၁၄

အခွန်ထမ်းအမည် Machinery & Solutions Co,Ltd

လိပ်စာ ၁၀၈-က၊ သံလွင်လမ်း၊ ၊ ဗဟန်း၊ ရန်ကုန်တိုင်း

ကျပ် 594717.00 နှင့်ဒဏ်ငွေ 59472

စုစုပေါင်း ဂဏန်းဖြင့် 654189.00

စာဖြင့်(ကျပ်) ခြောက်သိန်းငါးသောင်းလေးထောင်တစ်ရာ့ရှစ်ဆယ့်ကိုး -တိတိ

ရက်စွဲ ၃။၄။၂၀၁၄

ပေးသွင်းသဖြင့်လက်ခံရရှိပါသည်

2 MAY 2014

654189

ဘဏ်မန်နေဂျာ

မြန်မာ့စီးပွားရေး
ဘဏ်[illegible](၅)

ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော်အစိုးရ
အမျိုးသား စီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန
**ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန**
ရုံးအမှတ် (၃၂)၊ နေပြည်တော်

စာအမှတ်၊ ရက- ၈ (ဂ) ၀၀၁/ ၂၀၁၂ ( [illegible] )
ရက်စွဲ၊ ၂၀၁၂ ခုနှစ် ဒီဇင်ဘာလ ( ၂၄ ) ရက်

သို့

အုပ်ချုပ်မှုဒါရိုက်တာ
**စက်ကိရိယာနှင့် နည်းလမ်းများ ကုမ္ပဏီလီမိတက်**
အမှတ်-၁၄၆/အယ်လ်-၂၊ ရွှေနှင်းဆီလမ်း
၅-ရပ်ကွက်၊ ၈-မိုင်ခွဲ၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့

အကြောင်းအရာ။ **ကုမ္ပဏီမှတ်ပုံတင်လက်မှတ် သက်တမ်းတိုးခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ ကုမ္ပဏီ၏ (၂-၁၀ -၂၀၁၂) ရက်စွဲပါစာ

၁။ အထက်ရည်ညွှန်းပါစာဖြင့် **စက်ကိရိယာနှင့် နည်းလမ်းများ ကုမ္ပဏီလီမိတက်** မှ သက်တမ်းတိုးမြှင့်ပေးပါရန် တင်ပြလာခြင်းကို (၂၃-၁၁-၂၀၁၂)ရက်နေ့တွင်ကျင်းပပြုလုပ်သည့် ဝန်ကြီးဌာနစီမံခန့်ခွဲရေးကော်မတီ အစည်းအဝေး အမှတ်စဉ် (၃၂/၂၀၁၂) မှ (၇-၁၀-၂၀၁၅) ရက်နေ့ အထိ (၃)နှစ် သက်တမ်း တိုးမြှင့် ခွင့်ပြုလိုက်သည်။

၂။ သို့ပါ၍ **စက်ကိရိယာနှင့် နည်းလမ်းများ ကုမ္ပဏီလီမိတက်**မှ ကျပ် ၅၀၀,၀၀၀/- (ကျပ်ငါးသိန်းတိတိ) ပေးသွင်းပြီးဖြစ်ပါ၍ ရုံးတွင်းမှတ်ပုံတင် အမှတ်- ၁၂၇၇/ ၂၀၁၀-၂၀၁၁ (၈-၁၀-၂၀၁၀) ဖြင့် သက်တမ်းတိုး မှတ်ပုံတင် လက်မှတ်ကို ထုတ်ပေးလိုက်သည်။

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)
(နန်းရီရီသန်း ၊ ညွှန်ကြားရေးမှူး)

မိတ္တူကို-
- ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ရုံး
- ရုံးလက်ခံ၊ မျှောစာတွဲ

DICA-Cabinet-Renew form (EC 28)

0000623[illegible]

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

**သက်တမ်းတိုး**

အမှတ် ...၁၂၇၇....../ ၂၀၁၀ - ၂၀၁၁

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ ...စက်ကိရိယာနှင့် နည်းလမ်းများ... ...ကုမ္ပဏီ လီမိတက်... အား ပေးရန်တာဝန် ကန့်သတ်ထားသော လီမိတက် ကုမ္ပဏီအဖြစ် ၂၀၁၀ နှစ်၊ ...အောက်တိုဘာ... ...၈ ရက်နေ့တွင် မှတ်ပုံတင်ထားခြင်းအား ၂၀၁၂ နှစ်၊ ..နိုဝင်ဘာ...လ၊ ...၂၃ ရက်နေ့မှစ၍ သက်တမ်းတိုး ခွင့်ပြုလိုက်သည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)

(နန်းရီရီသန်း ၊ ညွှန်ကြားရေးမှူး)

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ဝန်ဆောင်မှု
SERVICES

THE GOVERNMENT OF THE REPUBLIC OF THE UNION OF MYANMAR
MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT

# CERTIFICATE OF INCORPORATION

NO. ............1277.......... of 2010 - 2011

I hereby certify that the tenure of .MACHINERY..&..SOLUTIONS............ COMPANY LIMITED .......................................incorporated under the Myanmar Companies Act on ..........................8th OCTOBER, 2010.......................... is renewed with effected from ..........................23rd NOVEMBER, 2012..........................

ပြည်ပသို့ အလုပ်သမားစေလွှတ်မည့်
လုပ်ငန်းလုပ်ကိုင်ပါက အလုပ်သမား
ဝန်ကြီးဌာနတွင် ပြည်ပအလုပ်အကိုင်
အကျိုးဆောင်လိုင်စင်ရယူပြီး
ဆောင်ရွက်ရမည်။

**For Director General**
**(Nang Yi Yi Than, Director)**

Directorate of Investment and Company Administration

# ကုမ္ပဏီနှင့်သက်ဆိုင်သည့်အချက်အလက်များ

(က) အုပ်ချုပ်မှုဒါရိုက်တာအမည်၊ ....ဦးအောင်ရဲစိုး (၁၂/ဗဟန (နိုင်) ၀၈၅၄၄၁)....

(ခ) ကုမ္ပဏီ ရုံးခန်းလိပ်စာ၊ ....အမှတ်-၁၄၆/အယ်လ် - ၂၊ ရွှေနှင်းဆီလမ်း၊ ၅-ရပ်ကွက်
....၈-မိုင်ခွဲ၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့....

(ဂ) ဆက်သွယ်ရန် ဖုန်းနံပါတ်၊ ....၀၁ - ၆၆၇၁၁၀၊ ၀၉ - ၅၀၁၄၂၈၇....

(ဃ) ဒါရိုက်တာများ အမည်စာရင်း–....(၁) ဒေါ်ရွှေရွှေ....
၁၂/ဗဟန(နိုင်)၀၅၄၇၂၇

မှတ်ချက်။ (၁) ဤကုမ္ပဏီမှတ်ပုံတင်လက်မှတ်သည်မှတ်ပုံတင်ရက်စွဲ( ၈-၁၀-၂၀၁၂ )မှ ( ၇-၁၀-၂၀၁၅ )ရက်နေ့အထိ(၃)နှစ်သက်တမ်းအတွက်သာ ဖြစ်သည်။ သက်တမ်း မကုန်ဆုံးမီ (၃)လအလိုတွင် သက်တမ်းတိုးရန် ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာနသို့ လျှောက်ထား ရမည်။

(၂) ကုမ္ပဏီ အနေဖြင့် သင်းဖွဲ့မှတ်တမ်းတွင်အဆိုပြု တင်ပြထားသော လုပ်ငန်းရည်ရွယ်ချက်များကိုသာ လုပ်ကိုင်ရမည်။

(၃) သင်းဖွဲ့မှတ်တမ်းပါ ရည်ရွယ်ချက်များသည် သက်ဆိုင်ရာ ပြည်ထောင်စု ဝန်ကြီးဌာန၏ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း များနှင့်အညီ ခွင့်ပြုချက် ရရှိမှသာ ဆောင်ရွက်ခွင့် ရှိမည် ဖြစ်ပါသည်။

(၄) လုပ်ငန်းရည်ရွယ်ချက် ပြောင်းလဲ လုပ်ကိုင်လိုပါက ပြောင်းလဲ လုပ်ကိုင်လိုသည့် လုပ်ငန်း ရည်ရွယ်ချက်များအား သင်းဖွဲ့မှတ်တမ်းတွင် ပြင်ဆင် မှတ်ပုံတင်ရန်အတွက် ဒါရိုက်တာအဖွဲ့(BOD)၏ အထူး အစည်းအဝေး ဆုံးဖြတ်ချက် မှတ်တမ်းနှင့်အတူ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန သို့ လျှောက်ထား ရမည် ။

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)

( နီလာမူ၊ ဒုတိယညွှန်ကြားရေးမှူး )

AUDIT REPORT

ON

THE FINANCIAL ACCOUNTS

OF

MACHINERY & SOLUTIONS COMPANY LIMITED.

FOR

THE YEAR ENDING 31st MARCH 2013.

**MACHINERY & SOLUTIONS COMPANY LIMITED.**

**Financial Accounts for the year ending 31 st March ' 2013.**

**INDEX**

FOCUS CONSULTING GROUP LTD
AUDITORS & FINANCIAL CONSULTANTS
No-180 (First Floor) Taw Win Myanmar Condo, Botataung Pagoda Road, Yangon, Myanmar.
Ph: (951) 297249, (951) 9010203~204
gmail: focusgroup.financial@gmail.com

DAW THANT MYAT WIN * CERTIFIED PUBLIC ACCOUNTANT
MYANMAR

SM

## Auditor's Report

1 . I have audited the accounts which are signed by Managing Director and Director of " **MACHINERY & SOLUTIONS COMPANY LIMITED .**" in accordance With Myanmar Company Act Section 133 ( 1 ) and ( 2 ).

2 . The accompanying financial statement which include the balance sheet as on 31st March' 2013, with the income and expenditure for the year then ended is generally excepted in auditing practice and standards.

3 . In accordance with the Section 145 (1) and (2) of the Myanmar Companies Act, we report that we have obtained all the information and explanations, we have required. In our opinion, the above Balance Sheet and Profit & Loss Account are in accordance with the Law and are properly drawn up so as to exhibit a true and fair view of the state of the Company's affairs , according to the best of our information and explanations given to us and as shown by the books of the Company. The books of the Company have been kept in accordance with the Section (130) of the Myanmar Companies Act.

Yours Faithfully,

Daw Thant Myat Win
B.Com,(Q),C.P.A.Dip.IFR
Dip, In Business Law
Certified Public Accountant

## STATEMENTS OF DIRECTORS

1. We, the undersigned Managing Director and Director of " **MACHINERY & SOLUTIONS COMPANY LIMITED.** "do here by state that in accordance with Section 133 (1) and ( 2 ) of the Myanmar Company Act ; -

(1) THAT Balance Sheet and Profit and Loss account were drawn up ending as at 31st , March' 2013, together with the schedule, statements, notes to give a true and fair view of the state of the business.

(2) THAT there are reasonable grounds to belive that the company will be able to pay its debt as and when they fall due.

Managing Director

U Aung Ye Soe
Managing Director
Machinery & Solutions Co., Ltd.

Director

**Daw Htay Htay**
**Director**
**Machinery & Solutions Co., Ltd.**

# MACHINERY & SOLUTIONS COMPANY LIMITED.

## Trading , Profit & Loss Account for the year ending 31st March ' 2013

| | | | Kyats | Kyats |
|---|---|---|---|---|
| Operating Income | | | | |
| Sale Income | $ | 14,693.00 | 12,489,050.00 | |
| Services Income | $ | 87,258.27 | 74,169,529.50 | |
| | | | | 86,658,579.50 |
| Less; Cost of Sale | | | | |
| Purchase Expenses | | | 9,991,240.00 | |
| Trnsportation Charges | | | 514,255.00 | |
| Labour Charges | | | 293,860.00 | |
| Other Expenses | | | 176,316.00 | |
| | | | | (10,975,671.00) |
| Direct Expenses | | | | (69,315,361.00) |
| | | | | 6,367,547.50 |
| Foreign Exchange Gain /(Loss) | | | | |
| ***Gross Profit/(Loss)*** | | | | ***6,367,547.50*** |
| Less: Operating Expenses | | | | |
| Staff Salary | | | 1,920,000.00 | |
| Communication Charges | | | 591,600.00 | |
| Meal Expenses | | | 378,000.00 | |
| Electricity Charges | | | 570,000.00 | |
| Printing & Stationary | | | 284,400.00 | |
| Social & Welfar | | | 486,000.00 | |
| Travelling Expenses | | | 546,000.00 | |
| Office Expenses | | | 1,080,000.00 | |
| Bank Charges | | | 12,299.50 | |
| Company Formation Expenses | | | 258,006.25 | |
| Accounting Fees | | | 20,000.00 | |
| Auditing Fees | | | 20,000.00 | |
| | | | | 6,166,305.75 |
| ***Net Profit / ( Loss ) for the year*** | | | | **201,241.75** |

# MACHINERY & SOLUTIONS COMPANY LIMITED.

## Balance Sheet as at 31 st March ' 2013

| | | Kyats | Kyats |
|---|---|---|---|
| **Assets** | | | |
| Fixed Assets | | | |
| Less : Depreciation | | | |
| | | | - |
| **Current Assets** | | | |
| Advance Tax | $ 1,376.80 | 1,181,870.64 | |
| Cash in Hand ( Kyats ) | | 1,874,011.33 | |
| Cash at Bank ( MFTB - US$) | $ 2,735.47 | 2,325,149.50 | |
| | | | 5,381,031.47 |
| ***Total Net Assets*** | | | **5,381,031.47** |
| **Equity** | | | |
| Authorised Share Capital | | | ***500,000,000.00*** |
| Paid- Up Share Capital | | | 5,000,000.00 |
| Retained Earning | | | 341,031.47 |
| **Current Liabilities** | | | |
| Accrued Expenses | | 40,000.00 | |
| | | | 40,000.00 |
| | | | **5,381,031.47** |

I have examined the above Balance Sheet and connecting Trading,Profit & Loss Account, vouchers,document provided and obtained all the informations necessay. In my opinion,the Balance show a true & fair view of the state of affairs of the business as at 31 st March ' 2013, according to the best of information and explanation given to me as shown by the books.

The above Balance Sheet is to be read with " Audit Forwarding Report, Audit Notes & Observations " and subject to adjustments where necessary.

Daw Thant Myat Win
B.Com,(Q),C.P.A.Dip.IFR
Dip, In Business Law
Certified Public Accountant

U Aung Ye Soe
Managing Director
Machinery & Solutions Co., Ltd.

Daw Htay Htay
Directer
Machinery & Solutions Co., Ltd.

Appendix - I

**MACHINERY & SOLUTIONS COMPANY LIMITED.**

**Cash Flow Analysis Statement**

**for the year ending 31st March ' 2013.**

**Cash in Hand ( Kyats ) Account**

| | Kyats | Kyats |
|---|---|---|
| Opening Balance | | 72,913.97 |
| Cash receipts during the year | | |
| Transfer Sales | | 107,440,000.00 |
| | | 107,512,913.97 |
| Cash disbursements during the year | | |
| Purchase Expenses | 9,991,240.00 | |
| Trnsportation Charges | 514,255.00 | |
| Labour Charges | 293,860.00 | |
| Other Expenses | 176,316.00 | |
| | | 10,975,671.00 |
| **Direct Expenses** | | |
| Salary & Wages | 18,360,000.00 | |
| Transportation Charges | 15,716,868.00 | |
| Travelling Expenses | 10,425,600.00 | |
| Meal Expenses | 4,587,958.20 | |
| Commuciation Charges | 1,629,848.00 | |
| Repairs & Maintenance | 7,639,588.00 | |
| Entertainment | 792,396.00 | |
| Office Supply | 791,399.60 | |
| Micellanous Expenses | 9,371,703.20 | |
| | | 69,315,361.00 |
| *Administration Expenses* | | |
| Staff Salary | 1,920,000.00 | |
| Communication Charges | 591,600.00 | |
| Meal Expenses | 378,000.00 | |
| Electricity Charges | 570,000.00 | |
| Printing & Stationary | 284,400.00 | |
| Social & Welfar | 486,000.00 | |
| Travelling Expenses | 546,000.00 | |
| Office Expenses | 1,080,000.00 | |
| | | 5,856,000.00 |
| Payment To | | |
| Account Payable | 15,400,000.00 | |
| Transfer Purchase | 2,890,000.00 | |
| Accrued Expenses | 20,000.00 | |
| | | 18,310,000.00 |
| Advance Tax | $ 1,376.80 | 1,181,870.64 |
| | | 105,638,902.64 |
| **Closing Balance as at 31st March ' 2013.** | | **1,874,011.33** |

Appendix - II

**MACHINERY & SOLUTIONS COMPANY LIMITED.**

**Cash Flow Analysis Statement**

**for the year ending 31 st March ' 2013.**

**MFTB Bank ( US $ / FEC ) Account**

| | FEC/ US $ | Convert Kyats |
|---|---|---|
| Opening Balance | 23,798.67 | 19,181,728.02 |
| Cash receipts during the year | | |
| Income | 101,951.27 | 86,658,579.50 |
| Transfer Purcahse | 3,400.00 | 2,890,000.00 |
| | 129,149.94 | 108,730,307.52 |
| Cash Disbursements during the year | | |
| Transfer Sales | 126,400.00 | 107,440,000.00 |
| Bank Charges | 14.47 | 12,299.50 |
| | 126,414.47 | 107,452,299.50 |
| | 2,735.47 | 1,278,008.02 |
| **Gain /(Loss) : Foreign Exchange** | | 1,047,141.48 |
| ***Closing Balance as at 31 st March ' 2013.*** | ***2,735.47*** | ***2,325,149.50*** |

MACHINERY & SOLUTIONS COMPANY LIMITED.

Services Income Statement for the year 2012 - 2013

| Sr. No | Descriptions | Amount US $ | Convert Kyats |
|---|---|---|---|
| 1 | | | |
| 1 | 28th April ,2012 Golf with PCML Staff @ Royal Mingalardon | 2,059.32 | 1,750,422.00 |
| 2 | 5th May ,2012 Golf with PCML Staff @ Royal Mingalardon | 2,352.41 | 1,999,548.50 |
| 3 | Goodies For 2games | 5,688.69 | 4,835,386.50 |
| | | 10,100.42 | 8,585,357.00 |
| 2 | Engagement Session with state holder for | 2,480.50 | 2,108,425.00 |
| | | 2,480.50 | 2,108,425.00 |
| 3 | PCML Operations and PCSB DPI Engagement -Yetagun North Pre-Development 'on 16-Jun-2012 | 1,932.00 | 1,642,200.00 |
| | | 1,932.00 | 1,642,200.00 |
| 4 | | | |
| 1 | Stake Holder Management and Government Contacts engagement session at Bagan for RFS 2 & 3 on 13Aug -12 | 2,430.00 | 2,065,500.00 |
| 2 | Stake Holder Management and Government Contacts engagement session at Pakokku for RFS 2 & 3 on 14Aug -12 | 2,340.00 | 1,989,000.00 |
| 3 | Stake Holder Management and Government Contacts engagement session at Myingyan for RFS 2 & 3 on 15Aug -12 | 1,980.00 | 1,683,000.00 |
| 4 | Car rental services at Nyaung Oo,Pakokku & Myingyan for 4 days | 5,348.00 | 4,545,800.00 |
| | | 12,098.00 | 10,283,300.00 |

| Sr. No | Descriptions | Amount US $ | Convert Kyats |
|---|---|---|---|
| 5 | Stake Holder Management and Government Contacts engagement session Nay Pyi Taw Qn 14-July -12 | 2,349.00 | 1,996,650.00 |
| | Stake Holder Management and Government Contacts engagement session Mandalay On 15-July -12 | 3,400.00 | 2,890,000.00 |
| | Stake Holder Management and Government Contacts engagement session Bagan On 17-July -12 | 770.00 | 654,500.00 |
| | | 6,519.00 | 5,541,150.00 |
| 6 | Stake Holder Management and Government Contacts engagement at Nyaung Oo For RFS 2& 3 on 16-Aug-12 | 1,995.00 | 1,695,750.00 |
| | | 1,995.00 | 1,695,750.00 |
| 7 | Transportation HSD Fuel ( Trip) | 3,165.75 | 2,690,887.50 |
| | Diesel HSD 13 Drums | 1,463.20 | 1,243,720.00 |
| | Meals /Drink | 94.91 | 80,673.50 |
| | Office Supply | 91.69 | 77,936.50 |
| | Telephone /Fax | 706.32 | 600,372.00 |
| | Air Tickets /Transportation for Crew & MOGE | 102.80 | 87,380.00 |
| | For GM & Party Visit | 1,038.56 | 882,776.00 |
| | Repairs & Maintenance | 215.60 | 183,260.00 |
| | | 6,878.83 | 5,847,005.50 |
| 8 | Provision of Yangon office Renovation Work | 1,360.46 | 1,156,391.00 |
| | Provision of New Drilling Office Renovation Work | 13,047.48 | 11,090,358.00 |
| | Additional Scope of work for item 1 & 2 as per PCML requested on Site Survey | 1,397.11 | 1,187,543.50 |
| | | 15,805.05 | 13,434,292.50 |
| 9 | Transportation HSD Fuel ( Trip) Diesel HSD 13 Drums | 3,396.60 | 2,887,110.00 |
| | Meals /Drink | 1,508.56 | 1,282,276.00 |

| Sr. No | Descriptions | Amount US $ | Convert Kyats |
|---|---|---|---|
| | Office Supply | 335.61 | 285,268.50 |
| | Telephone /Fax | 81.78 | 69,513.00 |
| | Air Tickets /Transportation for Crew & MOGE | 662.72 | 563,312.00 |
| | Sundry | 148.10 | 125,885.00 |
| | For GM & Party Visit | 27.74 | 23,579.00 |
| | FSO Yangon Condensate Off-take Team | 790.02 | 671,517.00 |
| | PCML staff transit crew room charges &air ticket fees | 170.91 | 145,273.50 |
| | Entertainment for Business Purposes | 324.00 | 275,400.00 |
| | Repairs & Maintenance | 281.46 | 239,241.00 |
| | | 7,727.50 | 6,568,375.00 |
| 10 | Transportation HSD Fuel ( Trip) | 3,227.54 | 2,743,409.00 |
| | Diesel HSD 13 Drums | | |
| | Meals /Drink | 1,416.88 | 1,204,348.00 |
| | Office Supply | 58.85 | 50,022.50 |
| | Telephone /Fax | 660.94 | 561,799.00 |
| | Air Tickets /Transportation for Crew & MOGE | 680.95 | 578,807.50 |
| | Sundry | 188.61 | 160,318.50 |
| | PCML staff transit crew room charges &air ticket fees | 1,158.56 | 984,776.00 |
| | PCML staff transit crew room charges &air ticket fees | 1,021.15 | 867,977.50 |
| | Entertainment for Business Purposes | 124.20 | 105,570.00 |
| | Repairs & Maintenance | 310.43 | 263,865.50 |
| | | 8,848.11 | 7,520,893.50 |
| 11 | Transportation HSD Fuel ( Trip) | 3,307.50 | 2,811,375.00 |
| | Diesel HSD 13 Drums | | |
| | Meals /Drink | 1,661.24 | 1,412,054.00 |
| | Office Supply | 400.55 | 340,467.50 |
| | Telephone /Fax | 403.06 | 342,601.00 |
| | Air Tickets /Transportation for Crew & MOGE | 713.34 | 606,339.00 |
| | Sundry | 143.03 | 121,575.50 |
| | FSO Yangon Condensate Off-Take Team | 386.13 | 328,210.50 |
| | Entertainment for Business Purposes | 452.25 | 384,412.50 |
| | Repairs & Maintenance | 406.76 | 345,746.00 |
| | | 7,873.86 | 6,692,781.00 |
| 12 | Consultancy Services | 5,000.00 | 4,250,000.00 |
| | | 5,000.00 | 4,250,000.00 |
| | ***Total*** | 87,258.27 | 74,169,529.50 |

## MACHINERY & SOLUTIONS COMPANY LIMITED.

### Income Statement for the year 2012 - 2013

| Sr. No | Descriptions | A/U | Qty | Rate US $ | Amount US $ | Convert Kyats | Transport Charges | Labour Charges | Other Expenses | Total Kyats |
|---|---|---|---|---|---|---|---|---|---|---|
| 1 | Coffee Maker ,Brand -philip,model No.HD 744 | PC | 6.00 | 50.00 | 300.00 | 255,000.00 | 10,500.00 | 6,000.00 | 3,600.00 | 20,100.00 |
| | Thermo Pot,Electric,Brand -Panasonic | PC | 6.00 | 48.00 | 288.00 | 244,800.00 | 10,080.00 | 5,760.00 | 3,456.00 | 19,296.00 |
| | Connector ,RJ45,Brand -AMP USA | PC | 300.00 | 0.60 | 180.00 | 153,000.00 | 6,300.00 | 3,600.00 | 2,160.00 | 12,060.00 |
| | Adapter,RJ45- RJ45 | PC | 50.00 | 4.00 | 200.00 | 170,000.00 | 7,000.00 | 4,000.00 | 2,400.00 | 13,400.00 |
| | | | 362.00 | | 968.00 | 822,800.00 | 33,880.00 | 19,360.00 | 11,616.00 | 64,856.00 |
| 2 | Dart Game,c/w Dart Boad & Arrow Set | PC | 1.00 | 25.00 | 25.00 | 21,250.00 | 875.00 | 500.00 | 300.00 | 1,675.00 |
| | Boxing Training Stand,Boxing Bag Hight | PC | 1.00 | 245.00 | 245.00 | 208,250.00 | 8,575.00 | 4,900.00 | 2,940.00 | 16,415.00 |
| | Aqua Live Plant | PC | 5.00 | 2.00 | 10.00 | 8,500.00 | 350.00 | 200.00 | 120.00 | 670.00 |
| | | | 7.00 | | 280.00 | 238,000.00 | 9,800.00 | 5,600.00 | 3,360.00 | 18,760.00 |
| 3 | Communicaltion Equipment | PC | 20.00 | 100.00 | 2,000.00 | 1,700,000.00 | 70,000.00 | 40,000.00 | 24,000.00 | 134,000.00 |
| | | | 20.00 | | 2,000.00 | 1,700,000.00 | 70,000.00 | 40,000.00 | 24,000.00 | 134,000.00 |
| 4 | Memory Stick ,4 GB | PC | 10.00 | 7.50 | 75.00 | 63,750.00 | 2,625.00 | 1,500.00 | 900.00 | 5,025.00 |
| | | | 10.00 | | 75.00 | 63,750.00 | 2,625.00 | 1,500.00 | 900.00 | 5,025.00 |

| Sr. No | Descriptions | A/U | Qty | Rate US $ | Amount US $ | Convert Kyats | Transport Charges | Labour Charges | Other Expenses | Total Kyats |
|---|---|---|---|---|---|---|---|---|---|---|
| 9 | Boiler ,Hot Water,Digital Pro Electric Um,21Litre | PC | 2.00 | 360.00 | 720.00 | 612,000.00 | 25,200.00 | 14,400.00 | 8,640.00 | 48,240.00 |
| | | | 2.00 | | 720.00 | 612,000.00 | 25,200.00 | 14,400.00 | 8,640.00 | 48,240.00 |
| 10 | Lamp,Brand; SP,UV-40W,Part Number ;BF150 | PC | 8.00 | 82.00 | 656.00 | 557,600.00 | 22,960.00 | 13,120.00 | 7,872.00 | 43,952.00 |
| | | | 8.00 | | 656.00 | 557,600.00 | 22,960.00 | 13,120.00 | 7,872.00 | 43,952.00 |
| 11 | VHF Transceiver,Brand ;ICOM,Model;V87,Two-v | PC | 10.00 | 95.00 | 950.00 | 807,500.00 | 33,250.00 | 19,000.00 | 11,400.00 | 63,650.00 |
| | | | 10.00 | | 950.00 | 807,500.00 | 33,250.00 | 19,000.00 | 11,400.00 | 63,650.00 |
| 12 | RS 232 to RS422/RS485 Converter | PC | 1.00 | 350.00 | 350.00 | 297,500.00 | 12,250.00 | 7,000.00 | 4,200.00 | 23,450.00 |
| | | | 1.00 | | 350.00 | 297,500.00 | 12,250.00 | 7,000.00 | 4,200.00 | 23,450.00 |
| | ***Total*** | | 525.00 | | 14,693.00 | 12,489,050.00 | 514,255.00 | 293,860.00 | 176,316.00 | 984,431.00 |

| Sr. No | Descriptions | A/U | Qty | Rate US $ | Amount US $ | Convert Kyats | Transport Charges | Labour Charges | Other Expenses | Total Kyats |
|---|---|---|---|---|---|---|---|---|---|---|
| 5 | Generator ,Diesel ,Welder,Yammar | PC | 1.00 | 5,900.00 | 5,900.00 | 5,015,000.00 | 206,500.00 | 118,000.00 | 70,800.00 | 395,300.00 |
| | | | 1.00 | | 5,900.00 | 5,015,000.00 | 206,500.00 | 118,000.00 | 70,800.00 | 395,300.00 |
| 6 | Electrical PVC Flexiable pipe ,Size (3/4") | PC | 2.00 | 12.00 | 24.00 | 20,400.00 | 840.00 | 480.00 | 288.00 | 1,608.00 |
| | Socket -Outlet,2P+E,13A,DP Switched ,2Gang | PC | 10.00 | 6.00 | 60.00 | 51,000.00 | 2,100.00 | 1,200.00 | 720.00 | 4,020.00 |
| | Socket -Casing ,2Gang 3 x 6 | PC | 10.00 | 5.00 | 50.00 | 42,500.00 | 1,750.00 | 1,000.00 | 600.00 | 3,350.00 |
| | RCCB ,415V,4P,63A,3KA,Brand ,Havell's | PC | 8.00 | 75.00 | 600.00 | 510,000.00 | 21,000.00 | 12,000.00 | 7,200.00 | 40,200.00 |
| | Black Screw ,3/4" x 6-100,Brand Diamond | PC | 5.00 | 1.50 | 7.50 | 6,375.00 | 262.50 | 150.00 | 90.00 | 502.50 |
| | Black Screw ,1" x 6-100,Brand Diamond | PC | 5.00 | 1.50 | 7.50 | 6,375.00 | 262.50 | 150.00 | 90.00 | 502.50 |
| | Plastic Sheet ( 8' double Layer ) | PC | 50.00 | 2.50 | 125.00 | 106,250.00 | 4,375.00 | 2,500.00 | 1,500.00 | 8,375.00 |
| | | | 90.00 | | 874.00 | 742,900.00 | 30,590.00 | 17,480.00 | 10,488.00 | 58,558.00 |
| 7 | Straight Desk ,L1200 x D750x H750 | PC | 2.00 | 230.00 | 460.00 | 391,000.00 | 16,100.00 | 9,200.00 | 5,520.00 | 30,820.00 |
| | Filing Cabinet ,L900xD500xH900 | PC | 2.00 | 280.00 | 560.00 | 476,000.00 | 19,600.00 | 11,200.00 | 6,720.00 | 37,520.00 |
| | Plastic Chairs 120-75,Wood,Cream Color | PC | 6.00 | 130.00 | 780.00 | 663,000.00 | 27,300.00 | 15,600.00 | 9,360.00 | 52,260.00 |
| | | | 10.00 | | 1,800.00 | 1,530,000.00 | 63,000.00 | 36,000.00 | 21,600.00 | 120,600.00 |
| 8 | Clamp ,Earthing ,Material;Copper/Brass,16-70 | PC | 4.00 | 30.00 | 120.00 | 102,000.00 | 4,200.00 | 2,400.00 | 1,440.00 | 8,040.00 |
| | | | 4.00 | | 120.00 | 102,000.00 | 4,200.00 | 2,400.00 | 1,440.00 | 8,040.00 |

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန်ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ

# စက်ကိရိယာနှင့် နည်းလမ်းများ ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့မှတ်တမ်း

နှင့်

## သင်းဖွဲ့စည်းမျဉ်းများ

V V V V

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Memorandum of Association

*AND*

# Articles of Association

*OF*

# MACHINERY & SOLUTIONS COMPANY LIMITED

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန်ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ

# စက်ကိရိယာနှင့် နည်းလမ်းများ ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့မှတ်တမ်း

V V V V

၁။ ကုမ္ပဏီ၏ အမည်သည် " **စက်ကိရိယာနှင့် နည်းလမ်းများ ကုမ္ပဏီ လီမိတက်** " ဖြစ်ပါသည်။

၂။ **ကုမ္ပဏီ၏** မှတ်ပုံတင် အလုပ်တိုက်သည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ **ကုမ္ပဏီ** တည်ထောင်ရခြင်း၏ **ရည်ရွယ်ချက်များမှာ တစ်ဖက်စာမျက်နှာပါအတိုင်း** ဖြစ်ပါသည်။

၄။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၅။ ကုမ္ပဏီ၏ သတ်မှတ် မ,တည်ငွေရင်းသည် ကျပ်- ၅၀၀,၀၀၀,၀၀၀/-( ကျပ်သန်းငါးရာတိတိ ) ဖြစ်၍ ငွေကျပ်- ၁၀,၀၀၀/- ( ကျပ်တစ်သောင်းတိတိ ) တန် အစုရှယ်ယာပေါင်း ( ၅၀,၀၀၀ )ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင်တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာ ရှိစေရမည်။

အောက်ပါဝန်ဆောင်မှုလုပ်ငန်းများကို မိမိတစ်ဦးတည်းဖြစ်စေ၊ မည်သည့်ပြည်တွင်း ပြည်ပပုဂ္ဂိုလ်များနှင့် ဖက်စပ်၍ဖြစ်စေ လုပ်ကိုင်ဆောင်ရွက်ရန်။

(က) အေဂျင်စီလုပ်ငန်းအမျိုးမျိုး၊ ကျွမ်းကျင်မှုအတိုင်ပင်ခံများ၊ လုပ်ငန်းအတိုင်ပင်ခံများ၊ အုပ်ချုပ်မှုအတိုင်ပင်ခံများနှင့် အကြံပေး ဝန်ဆောင်မှုလုပ်ငန်းများ၊

(ခ) ကြော်ငြာနှင့် ကြော်ငြာကိုယ်စားလှယ်လုပ်ငန်း၊

(ဂ) ဖျော်ဖြေရေးလုပ်ငန်းနှင့် ယင်းနှင့်ပတ်သက်သည့် လုပ်ငန်းများ၊

(ဃ) ဆေးဝန်ဆောင်မှုလုပ်ငန်းအမျိုးမျိုး၊

(င) သယ်ယူပို့ဆောင်ရေးလုပ်ငန်း (မီးရထားနှင့် လေကြောင်းမှအပ)

(စ) ပုံနှိပ်ထုတ်ဝေခြင်းလုပ်ငန်း၊

(ဆ) တိုင်းတာရေးနှင့် စစ်ဆေးရေးလုပ်ငန်း

(ဇ) စီမံကိန်းသစ်များ၌ ဖြစ်မြောက်နိုင်စွမ်း ရှိ-မရှိ လေ့လာခြင်း၊ စီမံကိန်းပုံစံများ ချမှတ်ခြင်း၊ စီမံကိန်းကုန်ကျစရိတ် ခန့်မှန်းခြင်း နှင့် တန်ဖိုးတွက်ချက်ခြင်းလုပ်ငန်းများ၊

(ဈ) စာရင်းရေးသွင်းခြင်း၊ စာရင်းစစ်ဆေးခြင်းနှင့် ဥပဒေအကြံပေးဝန်ဆောင်မှုလုပ်ငန်းများ၊

(ည) ယာဉ်နှင့် စက်ကိရိယာအမျိုးမျိုး ကြံ့ခိုင်ရေးပြုလုပ်ခြင်း၊ မွမ်းမံခြင်းနှင့် ပြင်ဆင်ခြင်းလုပ်ငန်းများ၊

(ဋ) လျှပ်စစ်နှင့် အီလက်ထရောနစ်ကုန်ပစ္စည်းများ တပ်ဆင်ခြင်း၊ ပြုပြင်ခြင်းနှင့် မွမ်းမံတည်ဆောက်ခြင်းလုပ်ငန်းများ။

(၂) ကုမ္ပဏီမှ သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ်၊ သို့မဟုတ်၊ ငွေကြေးအဖွဲ့အစည်းထံမှမဆို ငွေချေးယူရန်။

ခြွင်းချက်။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌ဖြစ်စေ၊ အခြားမည်သည့် အရပ်ဒေသ၌ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့် လုပ်ငန်းများအမှအပ အခြားလုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း၌ အချိန်ကာလအားလျော်စွာ တည်မြဲနေသည့် တရားဥပဒေပြဋ္ဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း သို့မဟုတ်၊ ခွင့်ပြုထားရှိခြင်းရှိမှသာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ခြွင်းချက်ထားရှိပါသည်။

အောက်တွင်အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ကိုယ်စီကိုယ်ငှသည်ဤသင်းဖွဲ့မှတ်တမ်း အရကုမ္ပဏီတစ်ခုဖွဲ့စည်းရန်လိုလားသည့်အလျောက်ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲပြထားသော အစုရှယ်ယာများကိုကုမ္ပဏီ၏မတည်ရင်းနှီးငွေတွင်ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁ | **ဦးအောင်ရဲစိုး**<br>အမှတ်-၁၀၈(က)၊ သံလွင်လမ်း၊<br>ရွှေတောင်ကြား (၁) ရပ်ကွက်၊ ဗဟန်းမြို့နယ်၊<br>ရန်ကုန်တိုင်းဒေသကြီး။<br>**(ကုန်သည်)** | မြန်မာ<br>၁၂/ဗဟန (နိုင်)<br>၀၈၅၄၄၁ | ၃၀၀ | |
| ၂ | **ဒေါ်ဌေးဌေး**<br>အမှတ်-၁၄၆/၅ ၂၊ ခေမာသီရိလမ်း၊<br>(၅) ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်၊<br>ရန်ကုန်တိုင်းဒေသကြီး။<br>**(ကုန်သည်)** | မြန်မာ<br>၁၂/ဗဟန (နိုင်)<br>၀၅၄၇၂၇ | ၂၀၀ | |

ရန်ကုန်။နေ့စွဲ၊ ၂၀၁၀ ခုနှစ်၊ စက်တင်ဘာလ၊ ၂၀ ရက်။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန်ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ

# စက်ကိရိယာနှင့် နည်းလမ်းများ ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့စည်းမျဉ်းများ

V V V V

၁။ ဤ သင်းဖွဲ့စည်းမျဉ်း နှင့် လိုက်လျောညီထွေ မဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ နောက်ဆက်တွဲ ပထမဇယားပုံစံ'က'ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၁၇(၂)တွင် ဖော်ပြပါရှိသည့် မလိုက်နာ မနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

### အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

၂။ ဤကုမ္ပဏီသည် အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍ အောက်ပါ သတ်မှတ်ချက်များသည် အကျိုးသက်ရောက်စေရမည်။

(က) ဤ ကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများ မှအပ၊ ဤကုမ္ပဏီ၏ အစုရှင် အရေအတွက်ကို ငါးဆယ်အထိသာ ကန့်သတ်ထားသည်။

(ခ) ဤ ကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်) တစ်ခုခု အတွက် ငွေထည့်ဝင်ရန် အများပြည်သူတို့အား ကမ်းလှမ်းခြင်း မပြုလုပ်ရန် တားမြစ်ထားသည်။

### မ,တည်ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ် မ,တည်ငွေရင်းသည် ကျပ်- ၅၀၀,၀၀၀,၀၀၀/-( ကျပ်သန်းငါးရာတိတိ ) ဖြစ်၍ ငွေကျပ်- ၁၀,၀၀၀/- ( ကျပ်တစ်သောင်းတိတိ ) တန် အစုရှယ်ယာပေါင်း ( ၅၀,၀၀၀ )ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင်တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာ ရှိစေရမည်။

၄။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက် များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှုအောက်တွင် ရှိစေရမည်။ ၄င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် အခြေအနေ တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်းတို့ကို ဆောင်ရွက်နိုင်သည်။

၅။ အစုရှယ်ယာလက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် အခြားပုဂ္ဂိုလ်များက လက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏တံဆိပ်ရိုက်နှိပ်ထုတ်ပေးရမည်။ အစုရှယ်ယာလက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း သို့မဟုတ် ပျက်စီးခြင်း ဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကိုသော်လည်းကောင်း၊ ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော အခြားသက်သေခံ အထောက်အထား တစ်စုံတစ်ရာကို တင်ပြစေ၍သော်လည်းကောင်း ထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင် ကိုယ်စားလှယ်ကို ဒါရိုက်တာများက အသိအမှတ်ပြုပေးရမည် ဖြစ်သည်။

၆။ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသော ငွေများကို အခါအားလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်းအတွက် ဒါရိုက်တာများက သတ်မှတ်သည့် ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်အချိန်နှင့်နေရာတွင် ပေးသွင်းစေရန် တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက် အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၇။ သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဋ္ဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် ( ၂ )ဦးထက်မနည်း၊ ( ၁၅ )ဦးထက် မများစေရ။
ပထမဒါရိုက်တာများသည် -
(၁) ဦးအောင်ရဲစိုး . . . . နှင့်
(၂) ဒေါ်ငွေးငွေး . . . . . . တို့ ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှ တစ်ဦးကို မန်နေဂျင်းဒါရိုက်တာ အဖြစ် အချိန်အခါအလိုက် သင့်လျော်သော သတ်မှတ်ချက်များ၊ ဥာဏ်ပူဇော်ခများဖြင့် ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများ အားလုံးကို ၎င်းက အသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦးဖြစ်မြောက်ရန် လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏ အစုရှယ်ယာ အနည်းဆုံး ( - )စုကို ပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပုဒ်မ ၈၅ ပါ ပြဋ္ဌာန်းချက်များကို လိုက်နာရန် တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှမပေးဘဲ ဒါရိုက်တာ အဖွဲ့သည် ၎င်းတို့၏ ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည် ၎င်းတို့သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံဆွေးနွေးခြင်း၊ အစည်းအဝေးရွှေ့ဆိုင်းခြင်း၊ အချိန်မှန်စည်းဝေးခြင်း၊ အစည်းအဝေးအထမြောက်ရန် အနည်းဆုံး ဒါရိုက်တာဦးရေသတ်မှတ်ခြင်းတို့ကို ဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦး တက်ရောက်လျှင် အစည်းအဝေးထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့်ပြဿနာမဆို ပေါ်ပေါက်ပါက မန်နေဂျင်းဒါရိုက်တာ၏ အဆုံးအဖြတ်သည် အတည် ဖြစ်ရမည်။ မည်သည့် ကိစ္စများကိုမဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက် တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏ အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေး ခေါ်နိုင်သည်။

၁၃။ ဒါရိုက်တာအားလုံးက လက်မှတ်ရေးထိုးထားသော ရေးသားထားသည့် ဆုံးဖြတ်ချက်တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံး အတွက်အကျိုးသက်ရောက်စေရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့်တာဝန်များ

၁၄။ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲဇယားပုံစံ(က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်ထားသော အထွေထွေအာဏာများကိုမထိခိုက်စေဘဲ ဒါရိုက်တာများသည်အောက်ဖော်ပြပါ အာဏာများရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေညာသည်။ အာဏာဆိုသည်မှာ-

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆသော တန်ဖိုးနှင့်စည်းကမ်းများ၊ အခြေအနေများ သတ်မှတ်၍ ကုမ္ပဏီကရယူရန် အာဏာရှိသည့်မည်သည့်ပစ္စည်း၊ အခွင့်အရေးများ ၊ အခွင့်အလမ်းများကို မဆိုဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့် ရယူပိုင်ဆိုင်ရန်အပြင် ကုမ္ပဏီကပိုင်ဆိုင်ခွင့်ရှိသော မည်သည့်ပစ္စည်း အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို သင့်တော်သောစည်းကမ်းချက်များ သတ်မှတ်၍ရောင်းချခြင်း၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း၊ သို့မဟုတ် အခြားနည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကို ပြုလုပ်ရန်။

(၂) သင့်လျော်သော စည်းကမ်းသတ်မှတ်ချက်များဖြင့် ငွေကြေးများကို ချေးငှားရန် သို့မဟုတ်အဆိုပါ ချေးငှားသောငွေကြေးများကို ပြန်လည်ပေးဆပ်ရန်အတွက် အာမခံများထားရှိရန်အပြင်၊ အထူးသဖြင့် ဤကုမ္ပဏီ၏ ဒိဘင်ချာများ၊ ဒိဘင်ချာစတော့(ခ်)များ၊ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါ အဝင်ယခုလက်ရှိနှင့် နောင်ရှိမည့်ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တဒေသကို အပေါင်ပြု၍ ထုတ်ဝေရန်။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက် အားလုံး သို့မဟုတ် တစ်စိတ်တဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာများ၊ ငွေချေးစာချုပ်များ၊ ဒိဘင်ချာများ သို့မဟုတ် ဤကုမ္ပဏီ၏အခြားသော အာမခံ စာချုပ်များကို ထုတ်ပေးရန်၊ ထို့အပြင် အဆိုပါအစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့်ပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း၊ တစ်စိတ်တဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများအနေဖြင့် သော်လည်းကောင်း၊ သဘောတူညီသကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ၊ ဒိဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏အခြားသော အာမခံစာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများအပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံးသို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ဖြစ်စေ၊ ထိုကဲ့သို့ မဟုတ်ဘဲဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့်ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ၊ တာဝန်ယူထားသည့်လုပ်ငန်းများ ပြီးစီးအောင် ဆောင်ရွက်စေခြင်းအလို့ငှာ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းရပ်များအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍သော်လည်းကောင်း၊ အပေါင်ပြု၍သော်လည်းကောင်း သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများတောင်းခံခေါ်ယူ၍ သော်လည်းကောင်း၊ ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန်။

(၅) မန်နေဂျာများ၊ အတွင်းရေးမှူးများ၊ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့်ဝန်ထမ်းများကို အမြဲတမ်းယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက် ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက် လည်းကောင်း၊ အဆိုပါ ပုဂ္ဂိုလ်တို့၏တာဝန်များ၊ အာဏာများ၊ လစာငွေများ၊ အခြားငွေကြေးများကို သတ်မှတ်ရာ၌ လည်းကောင်း၊ အာမခံပစ္စည်းများ တောင်းခံရာ၌ လည်းကောင်း သင့်လျော်သလို ဆောင်ရွက်ရန်၊ ထို့အပြင် အဆိုပါကိစ္စများအတွက် ကုမ္ပဏီ၏ မည်သည့်အရာရှိကိုမဆို ကိစ္စရပ်အားလုံးကိုဖြစ်စေ၊ တစ်စိတ်တစ်ဒေသကိုဖြစ်စေ ဒါရိုက်တာများ၏ ကိုယ်စားဆောင်ရွက် နိုင်ရေးအတွက် တာဝန်လွှဲအပ်ရန်။

(၆) ဤကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍မန်နေဂျင်းဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲမန်နေဂျာအဖြစ်ခန့်ထားရန်။

(၇) မည်သည့် အစုရှင်ထံမှမဆို ၎င်းတို့၏ အစုရှယ်ယာများအားလုံးကိုဖြစ်စေ၊ အချို့အဝက်ကိုဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသော စည်းကမ်းချက်များဖြင့် လက်ခံရန်။

(၈) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့်ဖြစ်သော မည်သည့်ပစ္စည်းကိုမဆို ကုမ္ပဏီ၏ ကိုယ်စားလက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆိုခန့်ထားရန်နှင့် အဆိုပါယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍လိုအပ်သော စာချုပ်စာတမ်းများ ချုပ်ဆို ပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့်စပ်လျဉ်း၍ ဤကုမ္ပဏီကပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏ အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆို ဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီ အပေါ် တောင်းခံသော ကြွေးမြီများနှင့် ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက်သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ်ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက်အပ်နှံရန်အပြင်ဖြန်ဖြေရေး ခုံသမာဓိ၏ဆုံးဖြတ်ချက်အတိုင်းလိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီကရရန်ရှိသောတောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ပေးရန်ရှိသော ငွေကြေး များအတွက် ပြေစာများ ပြုလုပ် ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့် စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီမဆပ်နိုင်ခြင်း ကိစ္စများနှင့် ပတ်သက်၍ကုမ္ပဏီ၏ကိုယ်စားဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ၊ ထပ်ဆင့်လက်မှတ်ရေးထိုးခြင်းများ၊လျှော်ပစ်ခြင်းများ၊ ကန်ထရိုက်စာချုပ်များနှင့် စာရွက်စာတမ်းများကို ကုမ္ပဏီ၏ကိုယ်စား မည်သူက လက်မှတ်ရေးထိုးခွင့်ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆပါက သင့်လျော်လျောက်ပတ်သော နည်းလမ်းများဖြင့်လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင်ငွေများကို အာမခံ ပစ္စည်းပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန်၊ ထို့အပြင် အချိန်ကာလအားလျော်စွာ မြှုပ်နှံထားသောငွေကို ပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလွှဲရန်။

(၁၅) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေးစိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာသို့မဟုတ် အခြားပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနှင့် နောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟုယူဆပါက ဆောင်ရွက်ခွင့်ပြုရန် အဆိုပါပေါင်နှံခြင်းဆိုရာ၌ ရောင်းချနိုင်သည့် အာဏာနှင့်အခြားသော သဘောတူညီထားသည့် တရားဝင်သဘော တူညီချက်များနှင့် ဥပဒေပါပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီကခန့်အပ်ထားသော မည်သည့်အရာရှိသို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အတိအကျ ဆောင်ရွက်ခဲ့သည့် လုပ်ငန်းသို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသောအမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏ အထွေထွေ အမြတ်အစွန်းမှ ခွဲဝေပေးခြင်းများပြုလုပ်ရန်နှင့် အဆိုပါကော်မရှင်များ၊ အမြတ် များခွဲဝေပေးခြင်းစသည်တို့ကို ဤကုမ္ပဏီ၏ လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသဖြစ် သတ်မှတ်ရန်။

(၁၇) ဤကုမ္ပဏီ၏လုပ်ငန်းများ အရာရှိများ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်းများ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏ လုပ်ငန်းအတွက် ဤကုမ္ပဏီ၏အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ကိုယ်စားဖြစ်စေ လိုအပ် သည်ဟုယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများကို ပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန်အပြင် အဆိုပါဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကို လည်းကောင်း၊ ၄င်းတို့နှင့် စပ်လျဉ်းသော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၉) ဒါရိုက်တာများက သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါကကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

## အထွေထွေအစည်းအဝေးကြီးများ

၁၅။ ကုမ္ပဏီကိုဥပဒေအရဖွဲ့စည်းတည်ထောင်ပြီးသည့်နေ့မှတစ်ဆယ့်ရှစ်လအတွင်း အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး ကြီးကို ကျင်းပရမည်။ ထို့နောက်ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့် အချိန်နှင့်နေရာ များတွင်ပြက္ခဒိန်နှစ်တစ်နှစ်လျှင်အနည်းဆုံးတစ်ကြိမ်(နောက်ဆုံးကျင်းပသည့် အထွေထွေအစည်း အဝေးကြီး နှင့် တစ်ဆယ့်ငါးလထက် မပိုသည့်အချိန်၌) ကျင်းပရမည်။ သင်းလုံးကျွတ် အစည်းအဝေးစတင်၍ လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်းအဝေးအထမြောက်ရန် သတ်မှတ်သည့် အစုရှင်အရေအတွက် မတက်ရောက်သော မည်သည့်သင်းလုံးကျွတ် အစည်းအဝေးတွင်မဆို လုပ်ငန်းနှင့်ပတ်သက်၍ ဆုံးဖြတ် ဆောင်ရွက်ခြင်းမပြုရ။ ဤတွင်အခြားနည်းသတ်မှတ်ပြဌာန်းခြင်းမရှိလျှင် ထုတ်ဝေထားသည့် မ,တည် ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ်ရာခိုင်နှုန်း ထက်မနည်း ပိုင်ဆိုင်ကြသည့် (နှစ်ဦးထက်မနည်းသော) အစုရှင်များ ကိုယ်တိုင်တက်ရောက်လျှင် လုပ်ငန်းကိစ္စအားလုံးဆောင်ရွက်ရန်အတွက် အစည်းအဝေး အထမြောက် သည့်ဦးရေ ဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင် အစုရှင်အရေအတွက် နှစ်ဦးတည်းသာ ရှိသည့်ကိစ္စတွင်မူ ထိုနှစ်ဦးတည်းသည်ပင်လျှင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အရေအတွက် ဖြစ်စေရမည်။

## အမြတ်ဝေစုများ

၁၆။ သင်းလုံးကျွတ် အစည်းအဝေးတွင် ဤကုမ္ပဏီ၏အစုရှင်များအားခွဲဝေပေးမည့် အမြတ်ဝေစုကို ကြေငြာရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေရသေးသည့် အမြတ်ပမာဏမှအပ အမြတ်ဝေစုကို ခွဲဝေမပေးရ။

## ရုံးဝန်ထမ်းများ

၁၇။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကို ဖွင့်လှစ်၍ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်းပြည့်မှီသူ ပုဂ္ဂိုလ်တစ်ဦးအား အထွေထွေမန်နေဂျာအဖြစ် ခန့်အပ်ရန်နှင့် အခြားအရည်အချင်းပြည့်မှီသူများ အား ရုံးဝန်ထမ်းများအဖြစ်ခန့်အပ်မည်ဖြစ်သည်။ လစာ၊ ခရီးသွားလာစရိတ်နှင့် အခြားအသုံးစရိတ်များ ကဲ့သို့သော ဥဏ်ပူဇော်ခများနှင့် အခကြေးငွေများကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၎င်း သတ်မှတ်ချက်များကို သင်းလုံးကျွတ်အစည်းအဝေးက အတည်ပြုရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာလုပ်ငန်း လည်ပတ်မှုအားလုံးအတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး မန်နေးဂျင်း ဒါရိုက်တာအားတာဝန်ခံ၍ ဆောင်ရွက်ရမည်။

## ငွေစာရင်းများ

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါသတ်မှတ်ချက်များ နှင့်အညီ ထားသိုထိန်းသိမ်းဆောင်ရွက်ရမည်။

(၁) ကုမ္ပဏီ၏ရငွေ၊သုံးငွေများ၏ပမာဏနှင့်၎င်းရငွေ၊သုံးငွေများဖြစ်ပေါ်ခြင်းနှင့်စပ်လျဉ်းသည့်အကြောင်းကိစ္စများ။

(၂) ကုမ္ပဏီ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(၃) ဤကုမ္ပဏီ၏ ရရန်ပိုင်ခွင့်နှင့် ပေးရန်တာဝန်များ။

၁၉ ။ ငွေစာရင်းစာအုပ်အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံးများသို့မဟုတ် ဒါရိုက်တာ များက သင့်လျော်သည်ဟု ထင်မြင်ယူဆသော အခြားနေရာများတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး၊ ရုံးချိန်အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

## စာရင်းစစ်

၂၀။ စာရင်းစစ်များကို ခန့်အပ်ထားရမည်။ ၎င်းစာရင်းစစ်များ၏ တာဝန်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်း စည်းကမ်းများ နှင့် လိုက်လျောညီထွေဖြစ်ရမည်။

## နို့တစ်စာ

၂၁။ ဤကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာ ပါသော စာကိုစာတိုက်ခ ကြိုတင်ပေးထား၍ ၎င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှတဆင့် လိပ်မူပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်သည်။

## တံဆိပ်

၂၂။ ဒါရိုက်တာများသည် တံဆိပ်ကို လုံခြုံစွာထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများက ကြိုတင်ပေးအပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတစ်ပါး၊ ထို့အပြင် အနည်းဆုံး ဒါရိုက်တာတစ်ဦး ရှေ့မှောက်တွင်မှတစ်ပါး မည်သည့်အခါမျှ မသုံးရ။ တံဆိပ်ရိုက်နှိပ်ထားသည့် စာရွက်စာတမ်းတိုင်းတွင် ထိုဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

## လျော်ကြေး

၂၃။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၈၆ (ဂ) တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိတရားဝင် တည်ဆဲဥပဒေပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူးသို့မဟုတ် အခြားအရာရှိတစ်ဦးဦးမှာ မိမိ၏တာဝန်ဝတ္တရားများကို ဆောင်ရွက်ရာ၌ဖြစ်စေ ထိုတာဝန်ဝတ္တရားများနှင့် စပ်လျဉ်း၍ဖြစ်စေ ကျခံခဲ့ရသည့်စရိတ်များ၊ တောင်းခံငွေများ၊ ဆုံးရှုံးငွေများ၊ ကုန်ကျငွေများနှင့် ကြွေးမြီးတာဝန်များ အတွက် ကုမ္ပဏီထံမှ လျော်ကြေးရထိုက်ခွင့်ရှိစေရမည်။

## ဖျက်သိမ်းခြင်း

၂၄။ ကုမ္ပဏီ၏ အထွေထွေအစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအား ဖျက်သိမ်းနိုင်သည်။ ယင်းသို့ဖျက်သိမ်းရာတွင် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင် ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့် စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ်ရမည်။

✣ ✣ ✣ ✣ ✣ ✣ ✣

